(9) To institute , conduct , defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10). To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes receipts, endorsements, releases contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof , upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye- laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts , deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit .

## GENERAL MEETING

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time (not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business, shall be transacted at any general meeting unless a quorum of members presented at the time when the meeting proceeds to business, save as herein otherwise provide Member holding not less than 50 percent of the issued shares capital (not less than two members personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors .No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs . The remunerations and allowances such as salaries , travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting .The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place:*

*(2) all sales and purchases of goods by the Company*

*(3) all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existin laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges. losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING - UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective name.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1 | **U Zaw Min Aung**<br>Merchant<br>No.(2127), Sintku Street,<br>Yadanar Takedi Quarter,<br>Ottaya thiri Township, NAYPYITAW | 7/YATANA(NAING)009491 | 250 | |
| 2 | **U Aung Than Oo**<br>Merchant<br>No.(3339), Kattar (16)Street,<br>Ottaya thiri Township, NAYPYITAW | 14/KALANA(NAING)079933 | 250 | |

Dated the day of

It is hereby certified that the persons mentioned above put their signatures in my presence.

သီလဝါကမ်းနားဒေသ၊ဆိပ်ကမ်းမြေကွက်အမှတ်(၂၂)တွင်

LPG ဓါတ်ငွေ့ရည်လုပ်ငန်း လုပ်ကိုင်ရေးအတွက်

ဆိပ်ကမ်းတည်ဆောက်ထူထောင်ရေးစီမံကိန်းအား

အကောင်အထည် ဖေါ်ခွင့်တောင်းခံခြင်း။

ရက်စွဲ - ၁၀-၀၃-၂၀၁၆

**အကြောင်းအရာ။ သီလဝါကမ်းနားဒေသ ဆိပ်ကမ်းမြေကွက်အမှတ်(၂၂)တွင် LPG ဓါတ်ငွေ့ရည်လုပ်ငန်း လုပ်ကိုင်ရေးအတွက် ဆိပ်ကမ်းတည်ဆောက်ထူထောင်ရေးစီမံကိန်းအားအကောင်အထည် ဖေါ်ခွင့်တောင်းခံခြင်း။**

**ရည်ရွယ်ချက်**

၁။ နိုင်ငံတော်၏စီးပွားရေးကိုအထောက်အကူပြုရန် Green Alliance Energy Co.,Ltd. သည် ရန်ကုန်ဆိပ်ကမ်း၊ သီလဝါကမ်းနားဒေသတွင် LPG ဓါတ်ငွေ့ရည်လုပ်ငန်းလုပ်ကိုင်ရန်အတွက် ဓါတ်ငွေ့ရည်ဆိပ်ကမ်းတည်ဆောက် ထူထောင်ရန် ရည်ရွယ်ပါသည်။

**မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ သီလဝါဆိပ်ကမ်းမဟာဗျူဟာ (Master Plan) အရ အကောင်အထည် ဖေါ်ရန်လျာထားချက်**

၂။ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သည် ရန်ကုန်ဆိပ်ကမ်း၏ အတွင်းဆိပ်ကမ်းရေပြင် (Inner Harbour) ၌ ခေတ်မီတိုးတက်ဖွံ့ဖြိုးသောဆိပ်ကမ်းများ ထူထောင်လျက်ရှိသကဲ့သို့ ရန်ကုန်ဆိပ်ကမ်း၏ မြစ်ကြေပိုင်း သီလဝါကမ်းနားဒေသတွင်လည်း ခေတ်မီတိုးတက်သောဆိပ်ကမ်းများထူထောင်ရန် သီလဝါဆိပ်ကမ်း မဟာဗျူဟာ စီမံချက် (Master Plan) ကိုရေးဆွဲအကောင်အထည်ဖေါ်လျက်ရှိသည့်အတိုင်း တာဝန်ကျရာအခန်းကဏ္ဍမှ ပါဝင်ဆောင်ရွက်မည်ဖြစ်ပါသည်။

**တည်နေရာနှင့်အကျယ်အဝန်း**

၃။ စီမံကိန်းတည်နေရာမှာ ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်းမြေကွက် အမှတ်(၂၂)ဖြစ်၍ မြစ်ညာဘက်၌ ဆိပ်ကမ်းမြေကွက်အမှတ်(၂၁)၊ မြစ်ကြေဘက်၌ ဆိပ်ကမ်းမြေကွက်အမှတ်(၂၃)တို့ တည်ရှိပါသည်။ မြန်မာ့ဆိပ်ကမ်း အာဏာပိုင်၏သီလဝါဆိပ်ကမ်းဖွံ့ဖြိုးရေး Master Plan အရ ယေဘူယျစံညွှန်း မြေကွက်အတိုင်းအတာမှာ ကုန်းတွင်းသို့ ၇၅၀ မီတာ (၂၄၆၀ ပေခန့်) ရှည်လျားပြီးရေပြင်မျက်နှာစာအကျယ်မှာ ၂၀၀-မီတာ (၆၅၆ ပေခန့်)ဖြစ်၍ မြေဧရိယာ ၁၅.၀ ဟက်တာ (Hectare)(၃၇.၀၅ ဧကခန့်) ကျယ်ဝန်းသည်။ တည်နေရာအနေအထားကို <u>ပူးတွဲပုံစံ-၁</u> ၌ ဖေါ်ပြထားပါသည်။

**ရေလမ်း၊ ကုန်းလမ်းဆက်သွယ်ရေးအနေအထား**

၄။ သီလဝါကမ်းနားဒေသမှာ ရန်ကုန်မြစ်၏အရှေ့ဘက်ကမ်း၌တည်ရှိပြီး ရန်ကုန်ဆိပ်ကမ်း၏အဝင်အထွက် ပင်လယ်ဝရှိ ဆင်မင်းပွိုင့် (Elephant Point)၊ ရွာသစ်ကုန်းမှ ၁၆ ကီလိုမီတာ (၁၀ မိုင်ခန့်) အကွာတွင် ရှိသည်။ သီလဝါကမ်းနားဒေသမှ ရန်ကုန်ဆိပ်ကမ်း၏အတွင်းဆိပ်ကမ်း (Inner Harbour) သို့ ၁၆ ကီလိုမီတာ (၁၀ မိုင်ခန့်) ကွာဝေးပြီး၊ သံလျက်စွန်းအတွင်းသောင်စည်းခုံ (Inner Bar) ကို ဖြတ်ကျော်ရောက်ရှိနိုင်သဖြင့် အတွင်းဆိပ်ကမ်းရှိ ဆိပ်ကမ်းတံတားများနှင့် ရန်ကုန်မြစ်အထက်ပိုင်းရှိ ဆိပ်ကမ်းတံတားများသို့ လည်းကောင်း၊ တွံတေးတူးမြောင်းမှတစ်ဆင့် ဧရာဝတီမြစ်ဝကျွန်းပေါ်ဒေသများနှင့် ဧရာဝတီမြစ်ဝှမ်းဒေသများသို့ လည်းကောင်း ရေလမ်းခရီးဆက်သွယ်မှုရှိသည်။ ပင်လယ်ရေကြောင်းဆက်သွယ်မှုအနေအထားမှာ ပင်လယ်ဝမှ နိုင်ငံတကာ ဆိပ်ကမ်းများသို့လည်းကောင်း၊ မြန်မာနိုင်ငံ၏ကမ်းရိုးတန်းဆိပ်ကမ်းအသီးသီးသို့လည်းကောင်း ကောင်းစွာ သွားလာနိုင်သည်။

**ရေပိုင်းကဏ္ဍ - ဆိပ်ခံတံတားတည်ဆောက်ရေးလုပ်ငန်း**

၈။ ဆိပ်ခံတံတားကိုအောက်တွင်ဖော်ပြမည့် ကျွမ်းကျင်မှုဆိုင်ရာအချက်အလက်များအား အခြေခံ၍တံတား တည်ဆောက်မည့်လုပ်ငန်းခွင်ကမ်းခြေနှင့် ရေပြင်၏ရေအတိမ်အနက်အနေအထားအရ ကျွမ်းကျင်မှုနည်းပညာဆိုင်ရာ ဒီဇိုင်းပုံစံ (Technical Conceptual Design) ရေးဆွဲလျက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က သတ်မှတ်ပေးမည့် Jetty Frontage Line အတိုင်း တံတားမျက်နှာစာကိုထားရှိတည်ဆောက်မည်ဖြစ်ပါသည်။

**၉။ ဆိပ်ခံတံတား၌ ဆိုက်ကပ်မည့်သင်္ဘောအချက်အလက်**

**Gas Carrier**

| | |
|---|---|
| GRT (Gross Registered Tonnage) | = GRT ၁၀,၀၀၀ |
| (သယ်ဆောင်နိုင်စွမ်း ဝမ်းတွင်းထုထည်) | (၂၈၃၀၀ကုဗမီတာ = ၁,၀၀၀,၀၀၀ ကုဗပေ) |
| LOA (စုစုပေါင်းအလျား) | = ၁၄၄ မီတာ |
| Breadth (ဝမ်းအကျယ်) | = ၂၃.၁ မီတာ |
| Full-Loaded Draft (ဝန်ပြည့်ရေစူး) | = ၉.၀ မီတာ |
| Laden Free Board (ဝန်ပြည့်ချိန်ရေပြင်ထက်ဝမ်းအမြင့်) | = ၃.၉ မီတာ |

**မှတ်ချက်။** LPG Vessel Gas Carrier များ၏ ဝန်သယ်ဆောင်နိုင်စွမ်းကို DWT ဖြင့် ပြသလေ့မရှိဘဲ GRT ဖြင့်သာ ဖော်ပြလေ့ရှိသည်။

**Product and Chemical Tanker**

| | |
|---|---|
| DWT (Deadweight Tonnage) ဝန်အလေးချိန် | = ၂၀,၀၀၀ |
| LOA (စုစုပေါင်းအလျား) | = ၁၇၄.၀ မီတာ |
| Breadth (ဝမ်းအကျယ်) | = ၂၄.၅ မီတာ |
| Full-Loaded Draft (ဝန်ပြည့်ရေစူး) | = ၉.၈ မီတာ (လောလောဆယ်ကာလတွင် ရေစူး ၉.၀ မီတာအထိသာဝန်တင်၍ ဝင်ရောက်ခွင့်ရှိမည်) |

အနာဂါတ်ကာလရေလမ်းများကို တိုးချဲ့ပြုပြင်ပြီးသောအချိန်၌ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က ခွင့်ပြုဖွယ်ရှိသော ပင်လယ်ကူးသင်္ဘောအရွယ်အစား (ဥပမာ - DWT ၃၀၀၀၀ မှ ၃၅၀၀၀) အတွက် ရည်မှန်း၍ အောက်ပါသင်္ဘော အရွယ်အစားဆိုက်ကပ်နိုင်ရန် တည်ဆောက်မည်ဖြစ်ပါသည်။

**Gas Carrier**

| | |
|---|---|
| GRT (Gross Registered Tonnage) | = GRT ၁၅,၀၀၀ |
| (သယ်ဆောင်နိုင်စွမ်း ဝမ်းတွင်းထုထည်) | (၄၂၄၅၀ကုဗမီတာ = ၁,၅၀၀,၀၀၀ ကုဗပေ) |
| LOA (စုစုပေါင်းအလျား) | = ၁၆၄ မီတာ |
| Breadth (ဝမ်းအကျယ်) | = ၂၆.၁ မီတာ |
| Full-Loaded Draft (ဝန်ပြည့်ရေစူး) | = ၁၀.၁ မီတာ |
| Laden Free Board (ဝန်ပြည့်ချိန်ရေပြင်ထက်ဝမ်းအမြင့်) | = ၄.၈ မီတာ |

**Oil Tanker** (တိုးချဲ့လုပ်ငန်းအဖြစ်စက်သုံးဆီများပို့ဆောင်ရန်လိုအပ်လာပါက ဆိုက်ကပ်နိုင်ရန်)

| | |
|---|---|
| DWT (Deadweight Tonnage) ဝန်အလေးချိန် | = ၃၀,၀၀၀ |
| LOA (စုစုပေါင်းအလျား) | = ၁၈၅.၀ မီတာ |
| Breadth (ဝမ်းအကျယ်) | = ၂၈.၃ မီတာ |
| Full-Loaded Draft (ဝန်ပြည့်ရေစူး) | = ၁၀.၉ မီတာ |
| Laden Free Board (ဝန်ပြည့်ချိန်ရေပြင်ထက်ဝမ်းအမြင့်) | = ၄.၃ မီတာ |

**Product and Chemical Tanker**

| | |
|---|---|
| DWT (Deadweight Tonnage) ဝန်အလေးချိန် | = ၃၀,၀၀၀ |
| LOA (စုစုပေါင်းအလျား) | = ၁၈၈.၀ မီတာ |
| Breadth (ဝမ်းအကျယ်) | = ၂၈.၀ မီတာ |
| Full-Loaded Draft (ဝန်ပြည့်ရေစူး) | = ၁၀.၈ မီတာ |
| Laden Free Board (ဝန်ပြည့်ချိန်ရေပြင်ထက်ဝမ်းအမြင့်) | = ၃.၉ မီတာ |

**တည်ဆောက်မည့်ဆိပ်ခံတံတား၏ Layout Plan**

၁၀။ သီလဝါကမ်းနားဒေသဆိပ်ကမ်းမြေကွက်(၂၂)၌ ထူထောင်မည့် LPG ဓါတ်ငွေ့ရည်ဆိပ်ကမ်း GAECL - LPG Port Terminal အတွက် လိုအပ်သောဆိပ်ခံတံတားကို တည်ဆောက်ရာတွင် Preliminary Stage Conceptual Design (ရှေ့ပြေးအဆင့်နည်းပညာဆိုင်ရာဒီဇိုင်း) ကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က ၂၀၁၀ ခု၊ ဧပြီလနှင့်မေလအတွင်း တိုင်းတာမှတ်တမ်းတင်ထားသည့် P.S No. 30 - 2010 (Soundings between Thilawa Plots No.14 to 33) နှင့် သီလဝါဆိပ်ကမ်းမြေကွက် (၂၀)၊ (၂၁) နှင့် (၂၂) တို့အား ၂၀၁၂ ခု ဒီဇင်ဘာလနှင့် ၂၀၁၃ ခု၊ ဇန်နဝါရီလအတွင်းက တိုင်းတာထားသော ကုန်းမြေအနိမ့်အမြင့်၊ ရေပြင်အတိမ်အနက် (Sounding) အသေးစိတ် ပုံတို့ကို အခြေခံလျက်ရေးဆွဲထားပါသည်။ ဖေါ်ပြပါ မြေပြင်အနိမ့်အမြင့်၊ ရေပြင်အတိမ်အနက်တိုင်းတာချက်မှတ်တမ်း ပုံတို့ကို <u>ပူးတွဲပုံစံ-(၃)(က)(၁) နှင့် (ခ)</u> တို့အဖြစ်တင်ပြထားပါသည်။

၁၁။ ရှေ့ပြေးအဆင့်နည်းပညာဆိုင်ရာဒီဇိုင်းအနေဖြင့် အဆိုပြုဆိပ်ခံတံတား၏ရှေ့မျက်နှာစာမျဉ်း (Jetty Frontage Alignment) ကို သီလဝါကမ်းနားဒေသဆိပ်ခံတံတားများအတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က ရွေးချယ်သတ်မှတ်ထားသော Wharf/ Jetty Frontage Line အတိုင်းတည်ဆောက်မည်ဖြစ်ပါသည်။

၁၂။ ဆိပ်ကမ်းမြေကွက်တစ်ခုစီ၏ ရှေ့မျက်နှာစာရေပြင်အကျယ်မှာ Nominal ၂၀၀ မီတာစီရှိမည်ဖြစ်ရာ တည်ဆောက်မည့်ဆိပ်ခံတံတားကို ယေဘူယျအားဖြင့် ဆိပ်ခံတံတားတစ်ခုချင်းအနည်းဆုံး ၁၀.၀ မီတာကွာစေရန် Boundary Line တစ်ဖက်တစ်ချက်၌ ၅ မီတာစီချန်လှပ်၍ ရှေ့ဆိပ်ခံအလျားကို အများဆုံး ၁၉၀ မီတာသာ တည်ဆောက်မည်ဖြစ်ပါသည်။ တည်ဆောက်မည့်ဆိပ်ခံတံတား၏ Layout Plan ကို <u>ပူးတွဲပုံစံ-၄</u> အဖြစ်တင်ပြပါသည်။

**ဆိပ်ခံတံတား၌ကုန်စည်ကိုင်တွယ်ရန်လျာထားမှု**

၁၃။ တည်ဆောက်ထူထောင်မည့်ဆိပ်ကမ်းတွင် အဓိကကုန်စည်အဖြစ် LPG ဓါတ်ငွေ့ရည်ကို ကိုင်တွယ်ရန် လျာထားပါသည်။ LPG ဓါတ်ငွေ့ရည်အပြင် လုပ်ငန်းနှင့်ဆက်နွယ်နေသော အခြားလုပ်ငန်းသုံးပစ္စည်းကုန်စည်နှင့် အထွေထွေကုန်စည် (General Cargo) အချို့ကိုလည်း ကိုင်တွယ်ရန်ရည်ရွယ်ပါသည်။ နောင်အနာဂါတ်ကာလတွင်

တိုးတက်ဖွံ့ဖြိုးလာမည့်ပင်လယ်ရေကြောင်းကုန်သွယ်မှုစီးပွားရေးကဏ္ဍ၏လိုအပ်ချက်အရ LPG ဓါတ်ငွေ့ရည်ကုန်စည်မျိုးတူ အခြားကုန်စည်အချို့ကိုလည်း ကိုင်တွယ်ရန်မျှော်မှန်းထားပါသည်။

## ကုန်ကိုင်တွယ်ပို့ဆောင်မည့်နည်းစနစ်များ

၁၄။ LPG ဓါတ်ငွေ့ရည်တို့ကို အဓိကထားကိုင်တွယ်မည့်အဆိုပြုဆိပ်ကမ်းတွင် အောက်ဖော်ပြပါ ကုန်ကိုင်တွယ်ပို့ဆောင်မည့်နည်းစနစ်တို့ကို အချိန်အခါခေတ်ကာလ၏ ဈေးကွက်လိုအပ်ချက်အရ ကျင့်သုံးရန်ရည်ရွယ်ထားပါသည်-

(က) LPG ဓါတ်ငွေ့ရည်များကို LPG ဓါတ်ငွေ့ရည်သင်္ဘော (Gas Carrier) မှ ဆိပ်ကမ်းကျောထောက်နောက်ခံလွင်ပြင်ရှိ LPG Tank Farm အသီးသီးသို့ Pipe Network & Pumping System ဖြင့်တင်ပို့ခြင်း။

(ခ) LPG ဓါတ်ငွေ့ရည်များကို Tank Farm မှ ပြန်လည်ဖြန့်ဖြူးရာတွင် ဆိပ်ခံတံတားကပ်ရေယာဉ်များသို့ Pipe Network & Pumping System ဖြင့်သီးခြားပို့ဆောင်ခြင်း။

(ဂ) LPG ဓါတ်ငွေ့ရည် Tank Farm မှ ဓါတ်ငွေ့ရည်များကို Pumping Stations မှတဆင့် Cylinders များအတွင်းသို့ဖြည့်သွင်းပြီး မော်တော်ယာဉ်များဖြင့် လိုရာဈေးကွက်သို့ပို့ဆောင်ဖြန့်ဖြူးခြင်း။

(ဃ) ဓါတ်ငွေ့ရည်ဖြည့်သွင်းပြီးသော Cylinders များကို Pumping Stations မှ ဆိပ်ခံတံတားသို့ပို့ဆောင်ရေးမော်တော်ယာဉ် Transportation Vehicle များဖြင့်ပို့ဆောင်၍ ရေယာဉ်များဖြင့်ဖြန့်ဖြူးခြင်း။

(င) လုပ်ငန်းသုံးပစ္စည်း၊ ကိရိယာများနှင့် အထွေထွေကုန်စည်အချို့အား ဆိပ်ခံတံတားနှင့်ကျောထောက်နောက်ခံကုန်စည်လွင်ပြင်အကြား ပို့ဆောင်မှုကိုသမရိုးကျဆိပ်ကမ်းသုံး Terminal Tractors & Trailers/ Prime Mover & Semitrailors တို့ဖြင့် ဆောင်ရွက်ခြင်း။

## ကုန်စည်များကိုင်တွယ်ရန်ထားရှိမည့် ကုန်ကိုင်တွယ်စက်ကိရိယာများနှင့် ကုန်စည်ပို့ဆောင်ရေးယာဉ်များ

၁၅။ ဖော်ပြပါ ကုန်ကိုင်တွယ်ပို့ဆောင်မည့်နည်းစနစ်များကို ကျင့်သုံးနိုင်ရန်အတွက် ဆိပ်ခံတံတား၌ထားရှိအသုံးပြုရန်လျာထားသော ကုန်ကိုင်တွယ်စက်ကိရိယာများနှင့် ကုန်ပို့ဆောင်ရေးယာဉ်များကို အောက်တွင် ဖော်ပြထားပါသည်-

(က) ကုန်စည်ကိုင်တွယ်စက်ကိရိယာများ (Cargo Handling Equipment)

(၁) Wharf-side Multipurpose Portal Crane ဆိပ်ခံထိပ်သုံးဘက်စုံကုန်စည်ကိုင်တွယ်ဝန်ချီစက်- ၁ စုံ (သံလမ်းပြေးလျှပ်စစ်ဓါတ်အားဖြင့် မောင်းနှင်ကိုင်တွယ်သည့် ၃၆-တန်စွမ်းအားရှိ ဝန်ချီစက်) အထွေထွေကုန်စည် (General Cargo)၊ စုပုံဝမ်းဖြည့်ကုန်စည်ခြောက် (Dry Bulk Cargo) နှင့် ကုန်သေတ္တာကုန်စည်(Containerised Cargo) ၃-မျိုးကို ကိုင်တွယ်နိုင်စွမ်းရှိသည်။ (စီမံကိန်းပထမအဆင့်)

(၂) Conventional Mobile Crane - သမရိုးကျသုံးရာဘာတာယာဘီးတပ်ဝန်ချီစက် - တန် ၅၀ စွမ်းအား - ၁ စီး (စီမံကိန်းပထမအဆင့်)

(၃) ပင်လယ်ကူးသင်္ဘောများပါ ကုန်ဟင်ဝန်ချီစက် (Ship Derrick) (သို့မဟုတ်) ကုန်စည်ကိုင်တွယ်သည့်စက်ကိရိယာများ၊ (သင်္ဘောများ၌ပါလာသည့်စက်ကိရိယာများဖြစ်၍ ဆိပ်ကမ်း၌ထားရှိရန်မလိုအပ်ပါ)

(ခ) ကုန်စည်ပို့ဆောင်ရေးကိရိယာများနှင့်ယာဉ်များ (Cargo Conveying Equipment & Cargo Transporting Vehicles)

(၁) LPG ဓါတ်ငွေ့ရည်များပို့ဆောင်ရေးတွင် သင်္ဘောနှင့်ကျောထောက်နောက်ခံ လွင်ပြင်ရှိ စားသုံးဆီသိုလှောင်ကန်များအကြား ဆီစုပ်တင်စွမ်းအားဖြင့်ပို့ဆောင်မည့်ပိုက်လိုင်းကွန်ယက် (Piping Network) ကို တပ်ဆင်အသုံးပြုမည်ဖြစ်ပါသည်။

(၂) LPG ဓါတ်ငွေ့ရည်စီလင်ဒါများနှင့် အထွေထွေကုန်စည်များပို့ဆောင်ရန် သမရိုးကျပို့ဆောင်ရေး ကုန်သယ်မော်တော်ယာဉ်များထားရှိ အသုံးပြုပါမည်။ (H-40 Series Truck ကုန်သယ် မော်တော်ယာဉ် (3 Axles, 10 wheels) ကုန်+ယာဉ်အလေးချိန် ၄၀ မက်ထရစ်တန်)

(၃) ရှည်လျားသောကုန်စည်များနှင့် ကုန်စည်ဖြည့်ထားသောကုန်သေတ္တာများကိုပို့ဆောင်ရန် ၂၀-ပေစံနှုန်း ကုန်သေတ္တာသယ်ယာဉ်များကဲ့သို့သော ဝန်ဆွဲယာဉ်နောက်တွဲယာဉ်များထားရှိအသုံးပြုပါမည်။ (Terminal Tractor & Trailers, Prime Mover & Semitrailers ဆိပ်ကမ်းသုံးဝန်ဆွဲယာဉ်နှင့် နောက်တွဲယာဉ်

ယင်းကုန်ကိုင်တွယ်စက်ကိရိယာကြီးများနှင့် ကုန်ပို့ဆောင်ရေးယာဉ်များ၏ စံချိန်စံညွှန်းများကို <u>နောက်ဆက်တွဲ(က)</u> ၌ ဖော်ပြထားပါသည်။

**တည်ဆောက်မည့်ဆိပ်ခံတံတား၏အလေးဝန်ခံနိုင်စွမ်း (Vertical Loadings on Jetty)**

၁၆။ ဆိပ်ခံတံတား R.C Jetty ၏အလေးဝန်ခံနိုင်စွမ်းကို အထက်၌ဖော်ပြထားသောကုန်ကိုင်တွယ်စက်ကိရိယာများနှင့်ကုန်ပို့ဆောင်ရေးယာဉ်များအပြင် ဓါတ်ငွေ့ရည်ပို့ဆောင်မှုသုံးပိုက်လိုင်းများ၏အလေးဝန်များကို ခံနိုင်စွမ်းရှိအောင် ဒီဇိုင်းပြုစုတည်ဆောက်မည်ဖြစ်ပါသည်။ ယင်းအလေးဝန်များကို <u>နောက်ဆက်တွဲ(က)</u> ၌ ဖော်ပြထားပါသည်။

ထို့ပြင်ဆိပ်ခံတံတား၏ရှေ့ဆိပ်ခံ၊ ကမ်းထောက်တံတားနှင့်ချဉ်းကပ်တံတားဦးတိုတို့အပေါ်တွင် အကြောင်းကြောင်းကြောင့် ကုန်စည်အချို့အားအရေးပေါ်/ယာယီချထားရန်လိုအပ်သောအခါ ချထားနိုင်စေရန် ဆိပ်ခံတံတားအခင်းတစ်ခုလုံးအား UDL (Uniformly Distributed Load) တစ်စတုရန်းပေးလျှင် ဝန်အလေးချိန်ပေါင် ၄၄၀ (တစ်စတုရန်းမီတာလျှင် ဝန်အလေးချိန်ပေါင် ၄၇၃၄ = ၂.၁၅ မက်ထရီတန်) ပျမ်းမျှနှုန်းအလေးဝန်ခံနိုင်စွမ်းရှိအောင် ဒီဇိုင်းပြုစုတည်ဆောက်မည်ဖြစ်ပါသည်။

**ရာသီဥတုဆိုင်ရာသဘာဝဆိုင်ရာဝန်းကျင်အခြေအနေ (Climatic Environmental Conditions)**

၁၇။ သီလဝါကမ်းနားဒေသနှင့် ရန်ကုန်မြစ်ဝှမ်းဒေသတို့၏ <u>နောက်ဆက်တွဲ(ခ)</u>ပါ ရာသီဥတုဆိုင်ရာသဘာဝဝန်းကျင် အခြေအနေများကို ဆိပ်ကမ်းထူထောင်ရာတွင် ထည့်သွင်းစဉ်းစား၍ ဒီဇိုင်းပြုစုတည်ဆောက်မည် ဖြစ်ပါသည်။

**ရှေ့ပြေးအဆင့် ဆိပ်ခံတံတား၏နည်းပညာဆိုင်ရာဒီဇိုင်းပုံစံ Preliminary Stage Conceptual Design of Jetty)**

၁၈။ အထက်စာပိုဒ်(၁၁) နှင့် (၁၂) တို့တွင် ရှင်းလင်းတင်ပြထားသည့်အတိုင်း မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က ရွေးချယ်သတ်မှတ်ထားသော Wharf/Jetty Frontage Line ကို အခြေတည်လျက် ရှေ့ပြေးအဆင့်ဆိပ်ခံတံတား၏ နည်းပညာဆိုင်ရာဒီဇိုင်းပုံစံကို ရေးဆွဲပြုစုထားပါသည်။

၁၉။ ယင်းအဆိုပြုရေ့ပြေးဆိပ်ခံတံတား၌ ရှေ့မျက်နှာစာရေပြင်တစ်လျှောက်တွင် ရေစစ်အောက်ရေအနက်ကို ၁၂.၀ မီတာဝန်းကျင်နှင့်အထက်ထားရှိပြီး ရှေ့ဆိပ်ခံ (Quay Apron) ကိုအလျား ၁၈၅ မီတာ × အကျယ် ၂၆.၀မီတာ အနည်းဆုံးထားရှိ၍ Dolphing Type R.C Jetty ကို ရေးဆွဲအဆိုပြုထားပါသည်။ ကိုင်တွယ်မည့်ကုန်စည် LPG ဓါတ်ငွေ့ရည်ဖြစ်သဖြင့် ရှေ့ဆိပ်ခံ၏အကျယ်ကို ၂၆.၀ မီတာသာထားရှိပြီး ရှေ့ဆိပ်ခံအလယ်ပိုင်း ၅၃.၀ မီတာအရှည်အား ဘေးအစွန် Dolphin (သင်္ဘောဆိုက်ကပ်ကြိုးချည်စင်) ၂ခုနှင့် အလျား ၂၂.၀ မီတာ×အကျယ် ၁၅.၀မီတာရှိ ဆိပ်ခံဆက်စပ်ပိုင်း ၂ခုဖြင့် ဆက်သွယ်တည်ဆောက်မည်ဖြစ်ပါသည်။ သင်္ဘော Dolphin တစ်ခုစီ၏အရွယ်မှာ အလျား ၄၄.၀ မီတာ×အကျယ် ၂၆.၀ မီတာဖြစ်၍သင်္ဘောဆိုက်ကပ်ရန် ဆိပ်ခံထိပ်အလျား (Quay Length) စုစုပေါင်း ၁၈၅.၀ မီတာရရှိမည်ဖြစ်ပါသည်။

၂၀။ ဖေါ်ပြပါ ရှေ့ဆိပ်ခံ (Quay Apron) အား အလျား ၁၂၄.၀ မီတာ×အကျယ် ၁၀.၅ မီတာရှိကမ်းထောက်တံတား (Trestle) ၁-ခုဖြင့်ဆက်စပ်တည်ဆောက်ပြီး ကမ်းခြေအနိမ့်အမြင့်အနေအထားအရ ကမ်းထောက်တံတားအား ကမ်းနဖူးသို့အလျား ၄၇.၀ မီတာ×အကျယ် ၁၀.၅ မီတာရှိချဉ်းကပ်တံတားဦးတို (Approach/Access Pier) ဖြင့်ဆက်သွယ်တည်ဆောက်မည်ဖြစ်ပါသည်။

၂၁။ ရှေ့ဆိပ်ခံစုစုပေါင်းအလျား ၁၈၅.၀ မီတာတွင် လောလောဆယ်ဆိုက်ကပ်ရန် ရည်မှန်းထားသော GRT ၁၀၀၀၀ Gas Carrier (LPG Vessel) LOA ၁၄၄.၀ မီတာ၊ ဝန်ပြည့်ရေစူး ၉.၀ မီတာ သင်္ဘောကောင်းစွာဆိုက်ကပ်နိုင်မည်ဖြစ်ပါသည်။ ရေစစ်အောက်ရေအနက် ၁၂.၀ မီတာဝန်းကျင်ကို ရွေးချယ်တည်ဆောက်ခြင်းကြောင့် အနာဂါတ်ကာလအတွက်မျှော်မှန်းထားသော GRT ၁၅၀၀၀ Gas Carrier Vessel သာမက လိုအပ်ပါက DWT ၃၀၀၀၀ Oil Tanker, DWT ၃၀၀၀၀ Product and Chemical Tanker များပင် ဆိုက်ကပ်နိုင်မည်ဖြစ်ပါသည်။ (LPG Vessel တို့ကို DWT ဖြင့်ဖေါ်ပြခြင်းမပြုဘဲ GRT ဖြင့်သာ ဖေါ်ပြလေ့ရှိပါသည်)

၂၂။ တည်ဆောက်မည့်ဆိပ်ခံတံတား၏ရေပြင်ညီအခင်းပုံစံ (Deck Plan)၊ ရှေ့မျက်နှာစာမြင်ကွင်းပုံ (Front Elevation) နှင့် ဘေးဘက်မြင်ကွင်းပုံ (Side Elevation) တို့၏ နည်းပညာဆိုင်ရာဒီဇိုင်း (Conceptual Design) ကို <u>ပူးတွဲပုံစံ-၅ ၊ ပူးတွဲပုံစံ-၆ နှင့် ပူးတွဲပုံစံ-၇</u> တို့၌ ဖေါ်ပြထားပါသည်။

၂၃။ ဆိပ်ခံတံတား၏အုတ်မြစ်ပိုင်းကို ခေတ်မှီ PSC (Pretensioned Spun Concrete) Piles များဖြင့် မြေစိုက်ရိုက်သွင်းတည်ဆောက်မည်ဖြစ်ရာ ရေပြင်ညီပိုင်ရိုက်ပန္နက်ပုံစံ (Piling Plan) ကို <u>ပူးတွဲပုံစံ-၈</u> ၌တင်ပြထားပါသည်။

## Structure Design နှင့်ဆောက်လုပ်ရေးနည်းစနစ်၊ စံချိန်စံညွှန်းများ

၂၄။ အဆိုပြုဆိပ်ခံတံတားကို ရှေ့ပြေးနည်းပညာဒီဇိုင်း (Preliminary stage Conceptual Design) ရေးဆွဲရာတွင် အုတ်မြစ်ပိုင်း၌ခေတ်မှီ Pretensioned Spun Concrete Piles (ကြိုတင်အားသွင်းပိုက်လုံးကွန်ကရစ်ပိုင်တိုင်များ) ကိုအသုံးပြုရန်လျာထားပြီး ရေအောက်မြေလွှာစမ်းသပ်မှုတွေ့ရှိချက်အရ ဒီဇိုင်းအသေးစိတ်ကို ရေးဆွဲသွားမည်ဖြစ်သည်။ ဒီဇိုင်းအသေးစိတ်တွက်ချက်ရာတွင် <u>နောက်ဆက်တွဲ (၁)</u> ပါ သီလဝါကမ်းနားဒေသ၏ ပတ်ဝန်းကျင်အခြေအနေများပါအချက်အလက်များကို အသုံးပြုမည်ဖြစ်ပါသည်။

၂၅။ ဆိပ်ခံတံတားကိုတည်ဆောက်ရာတွင် အောက်ပါဆောက်လုပ်ရေးနည်းစနစ်နှင့် စံချိန်စံညွှန်းများကို အခြေခံလျက် ဆိပ်ခံတံတား၏အနိမ့်အမြင့်အချက်အလက်များအရ တည်ဆောက်မည် ဖြစ်ပါသည် -

(က)ဆိပ်ခံတံတားကိုတည်ဆောက်မည့် Construction Technique မှာကြိုတင်အားသွင်းကွန်ကရစ်အုတ်မြစ်ပိုင်တိုင်(Pretensioned Spun Concrete Pile)များကိုမြေစိုက် ရိုက်သွင်းပြီး သံကူကွန်ကရစ်ပိုင်ထိပ်အုပ် (R.C Pile Cap)များ၊ သံကူကွန်ကရစ်ယက္ခ (R.C Girder)၊ သံကူကွန်ကရစ်ဆင့်တန်း (R.C Beam)များကို အောက်ခြေမှအထက်သို့ထပ်ဆင့်ဆောက်လုပ်၍ R.C Beam များပေါ်တွင် သံကူကွန်ကရစ်အခင်းသွန်းလောင်းဆောက်လုပ်မည့်နည်းလမ်း ဖြစ်ပါသည်။ ယင်းသို့ ဆောက်လုပ်ရာတွင် သတ်မှတ်ထားသည့်အချိန်ကာလအတွင်းအရည်အသွေးကောင်းမွန်စွာ အချိန်မှီပြီးစီးနိုင်ရေးအတွက် Precast members (ကြိုတင်သွန်းလောင်းသော အစိတ်အပိုင်းများ)နှင့် Cast-in-situ members (လုပ်ငန်းခွင်၌ သွန်းလောင်းသောအစိတ်အပိုင်းများ)ပေါင်းစပ်သည့်နည်းစနစ် (Composite Construction Technique) ကိုအသုံးပြုမည်ဖြစ်သည်။

ဆောက်လုပ်ရေးပစ္စည်းများ၏စံချိန်စံညွှန်းများ (Construction Materials Standards) နှင့် ဆောက်လုပ်ရေးနည်းစနစ်တို့ကို British Standard Institution - British Standard Code of Practice for Maritime Structures - Part 1 : General Criteria BS 6349, 1984 and Part 4 : Design of fendering & mooring systems BS 6349, 1985 နှင့် BS 8110 and CP 110 - Code of Practice for Concrete Properties တို့အားမှီငြမ်းအခြေခံ၍ အခြားသော အပြည်ပြည်ဆိုင်ရာ စံချိန်စံညွှန်းအချို့ကိုလည်း လိုအပ်သလိုအသုံးပြုမည်ဖြစ်ပါသည်။Prefabricated (သို့မဟုတ်) စက်ရုံထုတ်ပစ္စည်းများကို ဖော်ပြပါစံချိန်စံညွှန်းများအရ သက်ဆိုင်ရာထုတ်လုပ်သူ Manufacturer ၏စံချိန်စံညွှန်းများအတွက် အာမခံချက်ကိုရယူ၍အသုံးပြုပါမည်။ (ဥပမာ- Rubber Fenders, Bollards)

(၁) Vertical Heights (Levels) of Superstructure တံတားအဆောက်အအုံ၏အနိမ့်အမြင့်များ

<u>Quay Apron</u>

| | |
|---|---|
| Deck Level (အခင်းအမြင့်) | = R.L (+ 7.65 m) |
| Pile Cap Bottom (ပိုင်ထိပ်အုပ်အောက်ခြေ) | = R.L (+ 3.84 m) |
| Bottom of R.C Pad for fender | = R.L (+ 2.50 m) |
| Bottom of Fender Unit | = R.L (+ 3.0 m) (Lowest) |

<u>Trestle</u>

| | |
|---|---|
| Deck Level (အခင်းအမြင့်) | = R.L (+ 7.65 m) |
| Pile Cap Bottom (ပိုင်ထိပ်အုပ်အောက်ခြေ) | = R.L (+ 4.5 m) |

<u>Access/ Approach Pier</u>

| | |
|---|---|
| Deck Level (အခင်းအမြင့်) | = R.L (+ 7.65 m) |
| Pile Cap Bottom (ပိုင်ထိပ်အုပ်အောက်ခြေ) | = R.L (+ 5.19 m) |

**ကမ်းပါးထိန်းတာရိုးတံတိုင်း (Foreshore Retaining Wall) တည်ဆောက်ရေးလုပ်ငန်း**

၂၆။ ဆိပ်ကမ်းမြေကွက်အမှတ်(၂၂)၏ ကမ်းနဖူးမြေလွှာများပြိုကျမှုမှ ကာကွယ်ထိန်းသိမ်းရန် ပူးတွဲပုံစံ-၄ ၌ ဖေါ်ပြထားသည့်မျဉ်းအူကြောင်း Alignment အတိုင်း ကမ်းပါးထိန်းတံတိုင်းအမျိုးအစား၊ သံကူကွန်ကရစ်ပိုင်တိုင်၊ ဘောင်နှင့် တံတိုင်းထရံအလွှာတို့ဖြင့်ဆောင်လုပ်မည့် R.C Piled & Framed Forehsore Retaining Structure ကို တည်ဆောက်ပါမည်။ ယင်းတံတိုင်း၏အတွင်းဘက်ရှိမြေနိမ့်ပိုင်းအား လိုအပ်သလိုအသုံးပြုရန်မြေဖို့မည်ဖြစ်ပါသည်။ အဆိုပြုကမ်းပါးထိန်းတာရိုးတံတိုင်း၏တည်နေရာကို ပူးတွဲပုံစံ-၄ ၌ လျာထားပြီး ဆောက်လုပ်မည့်ကမ်းပါးထိန်းတာရိုးတံတိုင်း၏နည်းပညာဆိုင်ရာဒီဇိုင်းပုံစံကို ပူးတွဲပုံစံ-၉ အဖြစ်တင်ပြထားပါသည်။

**ရေပိုင်းလုပ်ငန်းကဏ္ဍအကောင်အထည်ဖေါ်မည့်လုပ်ငန်းပိုင်းများ၏ လုပ်ငန်းပမာဏနှင့်အဓိက ဆောက်လုပ်ရေးပစ္စည်းလိုအပ်မှုခန့်မှန်းချက်များ**

၂၇။ ဆိပ်ခံတံတားတည်ဆောက်ရေးလုပ်ငန်းနှင့်ကမ်းပါးထိန်းတာရိုးတံတိုင်းတည်ဆောက်ရေးလုပ်ငန်းတို့၏ ခန့်မှန်းလုပ်ငန်းပမာဏများကို အောက်တွင်ဖေါ်ပြအပ်ပါသည် -

(က) **ဆိပ်ခံတံတားတည်ဆောက်ရေးလုပ်ငန်း**

(၁) ရှေ့ဆိပ်ခံအလယ်ပိုင်း (Middle Quay)

အလျား = ၅၃.၀ မီတာ

အကျယ် = ၂၆.၀ မီတာ

ရှေ့ဆိပ်ခံအလယ်ပိုင်းနှင့် ဘေး Dolphin အကြားဆက်စပ်တံတား ၂ ခု

အလျား = ၂၂.၀ မီတာစီ

အကျယ် = ၁၅.၀ မီတာ

ဘေးစွန်သင်္ဘောကြိုးချည်/ဆိုက်ကပ်စင် Dolphin ၂-ခု

အလျား =. ၄၄.၀ မီတာစီ

အကျယ် = ၂၆.၀ မီတာစီ

ရှေ့ဆိပ်ခံ Quay စုစုပေါင်းအလျား = ၄၄+၂၂+၅၃+၂၂+၄၄

= ၁၈၅.၀ မီတာ

ဘောင်ထရီလိုင်းများမှ ကင်းလွတ်ရေပြင် = တစ်ဖက် ၇.၅ မီတာစီ

(၂) ကမ်းထောက်တံတား (Trestle)

အလျား = ၁၂၄.၀ မီတာ

အကျယ် = ၁၀.၅ မီတာ (အလယ်ပိုင်းရှိ Middle Pier ၌ အကျယ် ၁၃.၅ မီတာ)

(၃) ချဉ်းကပ်တံတားဦးတို (Access/ Approach Pier)

အလျား = ၄၇.၀ မီတာ

အကျယ် = ၁၀.၅ မီတာ

ဆိပ်ခံတံတား၏ရှေ့ဆိပ်ခံအတွင်းမှ ကမ်းနဖူးထိပ်သို့အကွာအဝေး = ၁၉၇ မီတာ

(ခ) ကမ်းပါးထိန်းတာရိုးတံတိုင်း (R.C Piled & Framed Foreshore Retaining Structure)

စုစုပေါင်းအလျား = ၂၀၀.၀ မီတာ

အတွင်းအပြင်ဘောင်အကျယ် = ၅.၁ မီတာ

၂၈။ အထက်ဖော်ပြပါ လုပ်ငန်းရပ် ၂ခုအား ဆောက်လုပ်အကောင်အထည်ဖော်ရာတွင် အသုံးပြုရန် အဓိက ဆောက်လုပ်ရေးပစ္စည်းလိုအပ်မှုခန့်မှန်းချက်ကို စံချိန်စံညွှန်းများနှင့်တကွ **နောက်ဆက်တွဲ(ဂ)** ၌ တင်ပြထားပါသည်။

**ရေပိုင်းလုပ်ငန်းကဏ္ဍအတွက် ရင်းနှီးမြှုပ်နှံရမည့် ကုန်ကျစရိတ်ငွေပမာဏခန့်မှန်းချက်**

၂၉။ ဆိပ်ခံတံတားနှင့်ကမ်းပါးထိန်းတာရိုးတံတိုင်းလုပ်ငန်းတို့အား အကောင်အထည်ဖော်ရန် ကုန်ကျစရိတ်ငွေ ခန့်မှန်းချက်တို့ကို အောက်တွင်ဖော်ပြထားပါသည် -

(က) အထက်စာပိုဒ်(၂၇)(က)၌ ဖော်ပြထားသော ရှေ့ဆိပ်ခံအရှည် ၁၈၅.၀ မီတာရှိ ဆိပ်ခံတံတားတည်ဆောက်ရန်ကုန်ကျမည့်ငွေ = ကျပ် ၁၇၅,၅၂၁.၄၇ သိန်း (ကျပ် ၈,၁၈၂,၂၁၄,၀၀၀ နှင့်ညီမျှသောနိုင်ငံခြားသုံးငွေအပါအဝင်)

(ခ) အထက်စာပိုဒ်(၂၇)(ခ) ၌ ဖော်ပြထားသော ကမ်းပါးထိန်းတာရိုးတံတိုင်း အလျား ၂၀၀.၀ မီတာတည်ဆောက်ရန်ကုန်ကျမည့်ငွေ = <u>ကျပ် ၂၄၀၀.၀၀ သိန်း</u> (ကျပ် ၈,၁၈၂,၂၁၄,၀၀၀ နှင့်ညီမျှသောနိုင်ငံခြားသုံးငွေအပါအဝင် = ကျပ် ၁၇၇,၉၂၁.၄၇ သိန်း စုစုပေါင်း)

**ရေပိုင်းလုပ်ငန်းကဏ္ဍ လုပ်ငန်း ၃-ရပ်အကောင်အထည်ဖော်ရန်ကာလလျာထားချက်**

၃၀။ ဆိပ်ခံတံတားနှင့်ကမ်းပါးထိန်းတာရိုးတံတိုင်းလုပ်ငန်းရပ် ၂ခုကို တစ်ပြိုင်တည်းသီးခြားစီဆောက်ရွက်နိုင်မည် ဖြစ်ရာ အကောင်အထည်ဖော်ရန်ကာလလျာထားချက်ကို အောက်တွင်တင်ပြထားပါသည် -

| <u>**စီမံကိန်းပထမအဆင့်**</u> | <u>**စီမံကိန်းစတင်ချိန်မှ**</u> |
|---|---|
| (က) ဆိပ်ခံတံတားတည်ဆောက်ရန် | = ၂ နှစ် ၃ လ |
| (ခ) ကမ်းပါးထိန်းတာရိုးတံတိုင်းဆောက်လုပ်ရန် | = ၁ နှစ် (လိုအပ်ပါကဒုတိယနှစ်အတွင်းဆောက်လုပ်ပါမည်) |
| (ဂ) ရေပိုင်းလုပ်ငန်း ၂ရပ်အကောင်အထည် ဖော်ရန်ကာလစုစုပေါင်း | = စီမံကိန်းစတင်ချိန်မှ ၂နှစ် ၃လ |

<u>မှတ်ချက်</u>။ တည်ဆောက်ရေးလုပ်ငန်းတို့ကို စီမံကိန်းပထမအဆင့်၌ပင် ပြီးစီးအောင် အကောင်အထည်ဖော်မည် ဖြစ်ပါသည်။

(ဃ) ရေပိုင်းလုပ်ငန်းကဏ္ဍ - ကုန်ကိုင်တွယ်စက်ကိရိယာများတပ်ဆင်အသုံးပြုရေးနှင့် ကုန်စည်ပို့ဆောင်ရေးယာဉ်များထားရှိဆောင်ရွက်ရေးလုပ်ငန်းပိုင်းကို ဆိပ်ခံတံတားတည်ဆောက်ရေးလုပ်ငန်းရပ်နှင့်တပြေးညီ စီမံကိန်းပထမအဆင့်နှင့် စီမံကိန်းဒုတိယအဆင့် ပိုင်းခြား၍အကောင်အထည်ဖော်မည်ဖြစ်ပါသည်။ စီမံကိန်းအဆင့်ပိုင်းခြားသတ်မှတ်မှုကို နောက်ဆက်တွဲ(က)၌ပင်ဖော်ပြထားပါသည်။

**ကုန်းပိုင်းလုပ်ငန်းကဏ္ဍ - ဆိပ်ကမ်းလုပ်ငန်းအထောက်အကူပြုအဆောက်အဦ၊ အဆောက်အအုံများနှင့် စီးပွားရေး ကျောထောက်နောက်ခံ LPG ဓါတ်ငွေ့ရည်လုပ်ငန်းဆိုင်ရာအကောင်အထည်ဖော်မှုများ**

၃၁။ စီမံကိန်းဖြင့်ထူထောင်မည့် GAECL ဓါတ်ငွေ့ရည်ဆိပ်ကမ်း၌ ရေပိုင်းလုပ်ငန်းများနည်းတူ ကုန်းပိုင်းလုပ်ငန်းများကိုလည်း သီလဝါဆိပ်ကမ်းမြေကွက်(၂၂) ၏ နယ်နိမိတ်ကုန်းပိုင်းဧရိယာဘောင်အတွင်းထူထောင်မည်ဖြစ်ပါသည်။ စီမံကိန်းအကောင်အထည်ဖော်ရာတွင် LPG ဓါတ်ငွေ့ရည်နှင့်ဆက်နွယ်ကုန်စည်များနှင့် အထောက်အကူပြု

အဆောက်အဦ၊ အဆောက်အအုံများအား အောက်တွင်ပဏာမအဆင့်အခြေခံလျာထားသည်များကို အကောင်အထည်ဖော်ရန် ရည်ရွယ်ထားပါသည် -

**စီမံကိန်းပထမအဆင့်**

**(က)အုပ်ချုပ်မှုနှင့်အထောက်အကူပြုအဆောက်အဦ၊ အဆောက်အအုံများ**

(၁)အုပ်ချုပ်စီမံခန့်ခွဲရုံးမြေကွက် - ၅၀×၇၀ မီတာ = ၃၅၀၀ စတုရန်းမီတာ

(၂)ဝန်ထမ်းနှင့်အလုပ်သမားသက်သာချောင်ချိရေး-နားနေဆောင်နှင့် စားသောက်ဆိုင်ခန်းမြေကွက် ၅၀×၅၀ မီတာ = ၂၅၀၀ စတုရန်းမီတာ

(၃)မီးသတ်တပ်ဖွဲ့ဌာနမြေကွက် ၅၀×၃၀ မီတာ = ၁၅၀၀ စတုရန်းမီတာ

(၄)ရေချိုလုပ်ငန်းနှင့်လျှပ်စစ်ဓါတ်အားလုပ်ငန်း မြေကွက် ၅၀×၅၈ မီတာ = ၂၉၀၀ စတုရန်းမီတာ

(၅)စက်ကိရိယာပြုပြင်၊ထိန်းသိမ်းရေးအလုပ်ရုံ၊ စက်သုံးဆီရုံ မြေကွက် ၅၀×၅၀ မီတာ = ၂၅၀၀ စတုရန်းမီတာ

**(ခ) လုပ်ငန်းဆောင်ရွက်မှုအဆောက်အဦများ**

(၆)LPG ဓါတ်ငွေ့ရည်စီလင်ဒါများထားသိုရန်၊ ပြုပြင်ထိန်းသိမ်းရန် မြေကွက် ၅၅×၂၈ မီတာ = ၁၅၄၀ စတုရန်းမီတာ

(၇)LPG ဓါတ်ငွေ့ရည်ဖြန့်ဖြူးရေး Pumps နှင့် ဓါတ်ငွေ့ရည်ဖြည့်တင်းရန် မြေကွက် ၅၅×၂၀ မီတာ = ၁၁၀၀ စတုရန်းမီတာ

(၈)LPG ဓါတ်ငွေ့ရည်သိုလှောင်ကန်လုံးများ Spherical Reservoirs မြေကွက် ၅၅×၁၀၀ မီတာ (၁.၅ မီတာမြင့်အောက်ခြေခံအပါအဝင်) = ၅၅၀၀ စတုရန်းမီတာ

ဓါတ်ငွေ့ရည်သင်္ဘောမှပိုက်လိုင်းများဖြင့်စုပ်တင်မည့် Pump အဆောက်အဦမြေကွက် ၅၅×၂၀ မီတာ = ၁၁၀၀ စတုရန်းမီတာ

(၉)ပိုက်လိုင်းများတပ်ဆင်ထားရှိရန် အမာခံမြေကွက် ၅၀×၆၅၀ မီတာ+၂×၈၇.၅×၂၅ မီတာ = ၇၆၂၅ စတုရန်းမီတာ

(ဂ) အခြေခံအဆောက်အအုံ Infrastructure များ

(၁၀)အတွင်းအဓိကဖြတ်လမ်း ၃၀×၇၃၈ မီတာ = ၂၂၁၄၀ စတုရန်းမီတာ

ဘေး/အနောက်ဘက်အရေးပေါ်ဖြတ်လမ်း ၂၅×၇၂၃ မီတာ= ၁၈၀၇၅ စတုရန်းမီတာ

(၁၁)ကုန်စည်လွှင်ပြင် (ကုန်ကိုင်တွယ်စက်ကိရိယာ၊ကုန်ကိုင်တွယ်ကား၊ ပို့ဆောင်ယာဉ်၊ ကိုယ်ပိုင်ကားများရပ်နားရန်) မြေကွက် ၃၅×၄၇၀ မီတာ = ၁၆၄၅၀ စတုရန်းမီတာ

(၁၂)အရေးပေါ်မီးသတ်နိုင်ရန်ရေကန်နှင့်ရေစုပ်စက်စက်ရုံ မြေကွက် ၅၀×၁၀၀ မီတာ = ၅၀၀၀ စတုရန်းမီတာ

စုစုပေါင်း = ၉၁၄၃၀ စတုရန်းမီတာ

(၁၃)ဆိပ်ကမ်းဝင်းထရံများ၊ ဂိတ်တံခါးများ၊ ဆိပ်ကမ်းအပြင်ဘက်
လမ်းသို့ဆက်စပ်လမ်းများ၊ ရေမြောင်းများ၊ လုံခြုံရေးအဆောက်အဦနှင့်
မျှော်စင်များ၊ လျှပ်စစ်မီးတိုင်စင်များ၊ လုံခြုံမှုအတွက် ခြံစည်းရိုး
၂ ထပ်များကိုလိုအပ်သလိုဆောက်လုပ်ထားရှိခြင်း = လုပ်ငန်းစုံ

**<u>စီမံကိန်းဒုတိယအဆင့်</u>**

**(ဃ)လုပ်ငန်းဆောင်ရွက်မှုအဆောက်အအုံများ**

(၁) Octane စက်သုံးဆီသိုလှောင်ရေးကန်များ
(Cylindrical Tanks) မြေကွက် ၅၅×၁၀၀ မီတာ
(၁.၅ မီတာ အမြင့်အောက်ခြေခုံအပါအဝင်) = ၅၅၀၀ စတုရန်းမီတာ
Octane စက်သုံးဆီသင်္ဘောပေါ်မှ ပိုက်လိုင်းများဖြင့်
စုပ်တင်မည့် Pump အဆောက်အဦမြေကွက်
၅၅×၂၀ မီတာ = ၁၁၀၀ စတုရန်းမီတာ

(၂)Octane ဖြန့်ဖြူးရေး Pumps နှင့် လုပ်ငန်းမြေကွက်
၅၅×၄၅ မီတာ = ၂၄၇၅ စတုရန်းမီတာ

(၃)ဒီဇယ်ဆီဖြန့်ဖြူးရေး Pumps နှင့် လုပ်ငန်းမြေကွက်
၅၅×၄၅ မီတာ = ၂၄၇၅ စတုရန်းမီတာ

(၄)ဒီဇယ်ဆီသိုလှောင်ရေးကန်များ
(Circular Tanks) မြေကွက် ၅၅×၁၀၀ မီတာ
(၁.၅ မီတာအမြင့်အောက်ခြေခုံအပါအဝင်) = ၅၅၀၀ စတုရန်းမီတာ
ဒီဇယ်ဆီသင်္ဘောပေါ်မှပိုက်လိုင်းများဖြင့် စုပ်တင်မည့်
Pump အဆောက်အဦမြေကွက် ၅၅×၂၀ မီတာ = ၁၁၀၀ စတုရန်းမီတာ

**(င) လုပ်ငန်းအထောက်အကူပြုလုပ်ငန်းရပ်များ**

(၅)ဆိပ်ကမ်းလုပ်ငန်းနှင့်တွဲဖက်/ဆက်နွယ်နေသောလုပ်ငန်းရပ်များ
အတွက် လျာထားမြေကွက် ၅၀×၁၃၀ မီတာ = ၆၅၀၀ စတုရန်းမီတာ

(၆)နောင်အနာဂါတ်ကာလရေရှည်စီမံကိန်းလုပ်ငန်းတိုးချဲ့ရန်
လျာထားသောမြေကွက် ၆၅×၂၀၀မီတာ+၅၅×၂၀၀မီတာ = <u>၂၈၀၀၀ စတုရန်းမီတာ</u>
စုစုပေါင်း = ၅၄၆၅၀ စတုရန်းမီတာ

(၇)ကမ်းပါးထိန်းကာရိုး၏နောက်ဘက်ရှိမြေနိမ့်ပိုင်းများအား
ရေရှည်စီမံကိန်းအတွက်မြေဖို့ရန်မြေကွက် = လုပ်ငန်းရပ် ၁ခု

**ဆိပ်ကမ်းဝင်းအတွင်းဝင်းထရံများ၊ ဂိတ်တံခါးများ၊ ရေမြောင်းနှင့် အရေးပါသောလုပ်ငန်းပိုင်းများနှင့် ကုန်ကိုင်တွယ် စက်ကိရိယာများ**

၃၂။ ဆိပ်ကမ်းဝင်းအတွင်းဆက်သွယ်သွားလာမှုအတွက် လိုအပ်သောအတွင်းလမ်းများကို အထက်စာပိုဒ်(၃၁)(ဂ)(၁) တွင်ဖော်ပြပြီးဖြစ်ပါသည်။ ဆိပ်ကမ်းထူထောင်မှုတွင်မပါမဖြစ်သော ဆိပ်ကမ်းဝင်းထရံများ၊ ဂိတ်တံခါးများ၊ ရေမြောင်းများ၊ လုံခြုံရေးအဆောက်အဦများနှင့်မျှော်စင်များ၊ လျှပ်စစ်မီးတိုင်စင်များနှင့် ဓါတ်ငွေ့ရည်၊ စက်သုံးဆီကန်များပတ်လည်၌ လုံခြုံမှုအတွက် ၂-ထပ်ခြံစည်းရိုးများကို လုပ်ငန်းပမာဏသီးခြားစီထုတ်နုတ်ဖော်ပြခြင်းမပြုဘဲ လုပ်ငန်းရပ်စု တခုတည်းဖြင့် အထက်စာပိုဒ်(၃၁)(ဂ)(၁၃)၌ ဖော်ပြထားပါသည်။ လုပ်ငန်းဦးစားပေးအဆင့်အလိုက်အကောင်အထည် ဖော်ရာတွင်လိုအပ်သလို ဆောက်လုပ်သွားမည်ဖြစ်ပါသည်။

၃၃။ ဆိပ်ကမ်းကျောထောက်နောက်ခံလွင်ပြင်၌ ကုန်စည်များကိုင်တွယ်ပို့ဆောင်ရန်လိုအပ်သော ကုန်ကိုင်တွယ် စက်ကိရိယာများ (Cargo Handling Equipment) နှင့် ကုန်ပို့ဆောင်ရေးယာဉ်များ (Cargo Transporters/ Vehicles) ကိုလုပ်ငန်းသဘာဝမျိုးတူအသီးသီးနှင့် လိုက်လျောညီထွေအောင်ထားရှိဆောင်ရွက်မည်ဖြစ်ပါသည်။

**ကုန်းပိုင်းအဆောက်အဦနှင့်အဆောက်အအုံများအတွက် အဓိကဆောက်လုပ်ရေးပစ္စည်းများလိုအပ်ချက်**

၃၄။ ကုန်းပိုင်းလုပ်ငန်းကဏ္ဍတွင်အကောင်အထည်ဖော်မည့်လုပ်ငန်းများမှာ အမျိုးအစားနှင့်သဘာဝမတူညီကြသည့် အတွက်အဓိကဆောက်လုပ်ရေးပစ္စည်းလိုအပ်ချက်များမှာလည်း ကွဲပြားပါသည်။ ထို့ပြင် စီမံကိန်းလုပ်ငန်း၏အဓိက ကုန်စည်များဖြစ်သော LPG ဓါတ်ငွေ့ရည်သိုလှောင်ကန်လုံးများ၊ Octane ဆီသိုလှောင်ကန်များနှင့် ဒီဇယ်ဆီ သိုလှောင်ကန်များ၊ Pumps & Pipe Networks တို့မှာလည်း သီးသန့်ကျွမ်းကျင်မှုဖြင့် ထုတ်လုပ်တပ်ဆင်ရသဖြင့် အဓိကဆောက်လုပ်ရေးပစ္စည်းလိုအပ်ချက်ပမာဏများကို ကြိုတင်ပြုစုရန်ခက်ခဲပါသည်။ စီမံကိန်းတွင်ပါဝင်သော ကုန်းပိုင်းအဆောက်အဦအချို့ကိုလည်း Prefabricated အစိတ်အပိုင်းများအား အစုံပြုံအလိုက်မှာယူဆောက်လုပ်ရမည် ဖြစ်သဖြင့် တင်ဒါများခေါ်ယူပြီးချိန်မှသာ ပစ္စည်းစာရင်းများကိုသိရှိနိုင်မည်ဖြစ်ပါသည်။ သို့ဖြစ်၍ ဆိပ်ခံတံတား တည်ဆောက်ရေးလုပ်ငန်းကဲ့သို့ အဓိကဆောက်လုပ်ရေးပစ္စည်းများစာရင်းကို ဖော်ပြခြင်းမပြုတော့ဘဲ အထက်စာပိုဒ်၌ ဖော်ပြထားသောလုပ်ငန်းအမျိုးအစားနှင့်မြေကွက်လျာထားချက်များကိုသာ တင်ပြပါသည်။

**ကုန်းပိုင်းလုပ်ငန်းကဏ္ဍ အကောင်အထည်ဖော်မှုလုပ်ငန်းများအတွက် ရင်းနှီးမြှုပ်နှံရမည့်ငွေကြေးပမာဏ ခန့်မှန်းချက်**

၃၅။ အထက်စာပိုဒ်(၃၁)၌ ဖော်ပြထားသော ကုန်းပိုင်းအဆောက်အဦများနှင့် အဆောက်အအုံများကို ဆောက်လုပ် အကောင်အထည်ဖော်ရန် ရင်းနှီးမြှုပ်နှံရမည့်ငွေစုစုပေါင်းမှာပမာဏကြီးမားပြီး နိုင်ငံခြားသုံးငွေ ၄၅% ခန့်ပါဝင်မည်ဟု ခန့်မှန်းထားပါသည်။ လုပ်ငန်းရပ်တစ်ခုချင်းအလိုက် ကုန်ကျစရိတ်အသီးသီးကိုကြိုတင်ခန့်မှန်းဖော်ပြခြင်းမပြုဘဲ ခေတ်ကာလပေါက်ဈေးနှုန်းများနှင့် ကျွမ်းကျင်ဆိုင်ရာလုပ်ငန်းအတွေ့အကြုံအရ စီမံကိန်းရေးပြေးကုန်ကျစရိတ်ကြိတ်နှုန်း (Project Advanced Estimate Cost Average Rate) PAE Cost ကိုသာ အခြေခံလျက်ရင်းနှီးမြှုပ်နှံရန် လိုအပ်မည့်ငွေကြေးပမာဏကိုသိသာနိုင်ပါရန် အောက်တွင်ဖော်ပြထားပါသည် -

<u>စီမံကိန်းပထမအဆင့်</u>

စာပိုဒ်(၃၁)(က)(ခ) နှင့်(ဂ) ပါလုပ်ငန်းရပ် ၁၃မျိုးအတွက် PAE Cost ပျမ်းမျှနှုန်း တစ်စတုရန်းပေလျှင် ကျပ် ၄၀၀၀၀/-အရ ကုန်ကျမည့်ငွေပေါင်း

= ၉၁၄၃၀ ×၃.၂၈×၃.၂၈× ကျပ် ၄၀၀၀၀/- = ၃၉၃,၄၅၆.၂၀ သိန်း

**စီမံကိန်းဒုတိယအဆင့်**

စာပိုဒ်(၃၁)(ဃ) နှင့် (င) ပါလုပ်ငန်းရပ် ၇-မျိုးအတွက် PAE Cost ပျမ်းမျှနှုန်း

တစ်စတုရန်းပေလျှင် ကျပ် ၅၀၀၀၀/-အရ ကုန်ကျမည့်ငွေပေါင်း

= ၅၄၆၅၀ ×၃.၂၈×၃.၂၈× ကျပ် ၅၀၀၀၀/- = ၂၉၃,၉၇၃.၂၈ သိန်း

စီမံကိန်းပထမအဆင့်နှင့် ဒုတိယအဆင့်အကောင်အထည်ဖော်မှု

တည်ဆောက်ရေးလုပ်ငန်းပိုင်းအတွက် ရင်းနှီးမြှုပ်နှံရမည့်ငွေပေါင်း = ၆၈၇,၄၂၉.၄၈ သိန်း

(ကျပ် ၂၇၄,၉၇၁.၇၉ သိန်းနှင့်ညီမျှသောနိုင်ငံခြားသုံးငွေအပါအဝင်)

**ကုန်းပိုင်းလုပ်ငန်းများဆောက်လုပ်အကောင်အထည်ဖော်မှုကာလလျာထားချက်**

၃၆။ စီမံကိန်းပထမအဆင့်နှင့် စီမံကိန်းဒုတိယအဆင့်ပါလုပ်ငန်းရပ်များကို ဆိပ်ခံတံတားတည်ဆောက်ရေးလုပ်ငန်းနှင့်တစ်ပြိုင်တည်းဆောက်လုပ်အကောင်အထည်ဖော်မည်ဖြစ်ရာ ကုန်းပိုင်းလုပ်ငန်းကဏ္ဍလုပ်ငန်းများကိုလည်း အောက်ပါအတိုင်းအကောင်အထည်ဖော်မှုကာလများလျာထားပါသည် -

**စီမံကိန်းပထမဆင့်**

(က)ရေပိုင်းလုပ်ငန်းကဏ္ဍလုပ်ငန်းများ

(က)ဆိပ်ခံတံတားတည်ဆောက်ခြင်း (စတင်ချိန်မှ ၂နှစ်အတွင်း)
၂-နှစ်ကာလ

(ခ)ကမ်းပါးထိန်းတာရိုးတံတိုင်းဆောက်လုပ်ခြင်း (စတင်ပြီး ၁နှစ်မှ ၂နှစ်အတွင်း)
၁-နှစ်ကာလ

ရေပိုင်းလုပ်ငန်းကဏ္ဍအကောင်အထည်ဖော်ခြင်း = ၂နှစ်ကာလ

**(ခ) ကုန်းပိုင်းကဏ္ဍလုပ်ငန်းများ**

(၁)ဆိပ်ကမ်းဝင်းထရံကာရံခြင်း၊ အတွင်းလမ်းနှင့် ရေမြောင်းများဖေါက်လုပ်ခြင်းလိုအပ်သည့်အမြင့်အထိ သဲဖို့ခြင်းအပါအဝင်) = (စတင်ချိန်မှ ၁နှစ် ၆လအတွင်း) = ၁နှစ် ၆လ

(၂)မော်တော်ယာဉ်များ၊ ကုန်သယ်ယာဉ်များရပ်နားရန် လွင်ပြင်အခင်းခင်းခြင်းနှင့် LPG ဓါတ်ငွေ့အိုးလွင်ပြင် ဆောက်လုပ်ခြင်း = (စတင်ပြီး၆လမှ ၁နှစ်၆လအတွင်း)= ၁ နှစ်

(၃)ဆိပ်ကမ်းအထောက်အကူပြုအဆောက်အဦများနှင့် အဆောက်အအုံများဆောက်လုပ်ခြင်း = (စတင်ချိန်မှ ၂နှစ် ၆လအတွင်း) = ၂နှစ် ၆လ

(၄)LPG ဓါတ်ငွေ့ရည်သိုလှောင်ကန်များ၊ ဓါတ်ငွေ့ရည်စုပ်တင်စက် နှင့်ပိုက်လိုင်းများတပ်ဆင်ခြင်း၊ ဖြန့်ဖြူးရေး Pumps နှင့် Filling Station ဆောက်လုပ်တပ်ဆင်ခြင်း = (စတင်ပြီး ၆လမှ ၂နှစ်၆လအတွင်း) = ၂နှစ်ကာလ

(၅)အရေးပေါ်မီးငြိမ်းသတ်ရန်ရေကန်နှင့်ရေစုပ်စက်ရုံ ဆောက်လုပ်ခြင်း = (စတင်ပြီး ၁နှစ် မှ ၂နှစ်အတွင်း) = ၁နှစ်

ကုန်းပိုင်းလုပ်ငန်းကဏ္ဍအကောင်အထည်ဖော်ခြင်း = ၂နှစ် ၆လ

(ဂ) စက်ကိရိယာများ၊ ကုန်ကိုင်တွယ်ကိရိယာနှင့်
ကုန်သယ်ယာဉ်များဝယ်ယူတပ်ဆင်ခြင်း = (စတင်ပြီး ၁နှစ်မှ ၃နှစ်အတွင်း) = ၂ နှစ်ကာလ

**စီမံကိန်းဒုတိယအဆင့်**

(ဃ) Octane ဆီသိုလှောင်ကန်များ၊ Octane ဆီစုပ်တင်စက်ရုံနှင့်
ပိုက်လိုင်းများတပ်ဆင်ခြင်း၊ ဖြန့်ဖြူးရေး Pumps များဆောက်လုပ်
တပ်ဆင်ခြင်း = (စတင်ပြီး ၁နှစ် ၆လမှ ၂နှစ်၆လ) = ၁နှစ်

(င) Diesel ဆီသိုလှောင်ကန်များ၊ Diesel ဆီစုပ်တင်စက်ရုံနှင့်
ပိုက်လိုင်းများတပ်ဆင်ခြင်း၊ ဖြန့်ဖြူးရေး Pumps များ
ဆောက်လုပ်တင်ဆင်ခြင်း = (စတင်ပြီး ၂နှစ် ၆လမှ ၃နှစ်၆လ) = ၁နှစ်

(စ) အခြားဆက်နွယ်လုပ်ငန်းအဆောက်အအုံများ
ဆောက်လုပ်ခြင်း = (စတင်ပြီး ၃နှစ် ၆လမှ ၄နှစ်၆လ) = ၁နှစ်

စီမံကိန်းတစ်ခုလုံးအကောင်အထည်ဖော်မည့် စီမံချက်လျာထားမှုဇယားကို <u>နောက်ဆက်တွဲ(ဃ)</u> အဖြစ်ဖော်ပြထားပါသည်။

**ပတ်ဝန်းကျင်နှင့်ပြည်သူတို့အပေါ်အကျိုးသက်ရောက်မှုများကို စိစစ်အကဲဖြတ်ခြင်း**

၃၇။ ပတ်ဝန်းကျင်အပေါ်အကျိုးသက်ရောက်မှုအခြေအနေအကဲဖြတ်ခြင်း(E.I.A - Environment Impact Assessment): အဆိုပြုစီမံကိန်းလုပ်ငန်း၏ပဓာနမှာ LPG ဓါတ်ငွေ့ရည်ဆိပ်ကမ်းလုပ်ငန်းဖြစ်၍ အဓိကအားဖြင့် LPG ဓါတ်ငွေ့ရည်နှင့်အခြားဆက်နွယ်ကုန်စည်ပစ္စည်းများဖြန့်ဖြူး ပို့ဆောင်ရေးလုပ်ငန်းဖြစ်ပါသည်။ ယင်းကုန်စည်များကို ကိုင်တွယ်ရာတွင် ဆိပ်ခံတံတားနှင့်ကုန်စည်လှောင်ပြင်အကြားအပြန်အလှန်ပိုက်လိုင်းများဖြင့် စနစ်တကျကိုင်တွယ်ပို့ဆောင်မည်ဖြစ်၍ ဆိပ်ခံတံတား ပေါ်တွင် ရေ-လေ ညစ်ညမ်းမှုများဖြစ်နိုင်ဖွယ်မရှိပါ။ အခြားကုန်စည်တို့ကို ဆိပ်ခံတံတား၌လည်း သမရိုးကျဆိပ်ကမ်း ကုန်ကိုင်တွယ်မှုစနစ်ဖြင့် ပို့ဆောင်မည်ဖြစ်သဖြင့် ရေ-လေ ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်စေနိုင်ပါ။ ဆိပ်ကမ်းဝင်းအတွင်း အရေးပေါ်မီးငြိမ်းသတ်ရန် ရေလှောင်ကန်နှင့်မီးသတ်တပ်ဖွဲ့၊ ရေချိုကန်တို့ထားရှိခြင်းဖြင့် ပတ်ဝန်းကျင်အခြေအနေကို ထိန်းသိမ်းထားမည်ဖြစ်ပါသည်။

၃၈။ ပြည်သူတို့အပေါ်အကျိုးသက်ရောက်မှုအနေအထားအကဲဖြတ်ခြင်း(S.I.A - Social Impact Assessment): စီမံကိန်းအကောင်အထည်ဖော်ရန်အဆိုပြုသောတည်နေရာမှာ ကျောက်တန်းမြို့နယ်၊ သီလဝါကျေးရွာ အုပ်စု၊ ဆိပ်ကမ်းမြေနေရာဖြစ်သော်လည်း ပြည်သူတို့၏လူမှုရေးဆိုင်ရာ နစ်နာဆုံးရှုံးမှု၊ ပျက်စီးမှုများ မရှိစေရန် အဆိုပြုဆိပ်ကမ်းထူထောင်ခြင်းနှင့်ဆက်နွယ်သည့် အနီးဝန်းကျင်ရှိကျေးရွာနှင့် လိုအပ်သလိုညှိနှိုင်းဆောင်ရွက်မည်ဖြစ်ပါသည်။ မြို့နယ်နေပြည်သူတို့အတွက် အလုပ်အကိုင်အခွင့်အလမ်းများပေါ်ထွက်လာသည့် အကျိုးသက်ရောက်မှုများရှိမည်ဟု သုံးသပ်ပါသည်။ E.I.A နှင့် S.I.A ပတ်သက်၍ ကျွမ်းကျင်သူ-----------အဖွဲ့အစည်း၏ စိစစ်သုံးသပ်အကဲဖြတ်အစီရင်ခံစာကို ပူးတွဲတင်ပြပါသည်။

**ဆိပ်ကမ်းထူထောင်ရန်မြေငှားအသုံးချမှုဆိုင်ရာကိစ္စရပ်များ**

၃၉။ မြေငှားရမ်းအသုံးချမှုပရီမီယံကြေးနှင့် မြေငှားရမ်းမှုပဋိညာဉ်စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့မှစ၍ နှစ်စဉ်စုစုပေါင်းဝင်ငွေအပေါ်တွင် လုပ်ငန်းဆောင်ရွက်မှုကာလအပိုင်းအခြားအလိုက် ညှိနှိုင်းအတည်ပြုမည့်

